# ရှောက်ဝလ်လမြတ်
# နှင့်
# ခြောက်လုံးရိုဇာ


မွတ်ဖ်သီ မိုဟမ္မဒ် အာစွင်းမ်
(နဒ်ဝီ၊ မဇွာဟေရီ၊ အဗွလ်ဟာစနီ)

## အလ်ဟာဂ်ျ မောင်လာနာ မွတ်ဖ်သီ ကရီမွလ္လာဟ် (နဒ်ဝီ၊ မဇွာဟေရီ၊ အဗ္ဗလ်ဟာစနီ) ၏အမှာစာ

بسم الله الرحمن الرحيم

الحمد لله تعالى، والصلاة والسلام على عباده الذين اصطفى. أمابعد

ကျွန်တော်တို့ အီမာန်ရှင်တွေထဲမှာ ရောက်ဝါလ်ရဲ့ ဆန်းဦးစ လကြောင့် အီးဒ်လုပ်ရတဲ့ ပျော်ရွှင်မှုတွေနဲ့အတူ အီးဒ်ပြီးရင် စောင့်ရမယ့် ရောက်ဝါလ်ရိုဇာ ခြောက်လုံးကို စောင့်မျှော်နေကြသူတွေ အံ့ခဲထား ကြသူတွေရှိကြပါတယ်။ သူတို့တွေအားလုံးက ရောက်ဝါလ် ခြောက်လုံး ရိုဇာရဲ့ ခန်းနားမှုကို နှလုံးသွင်းထားကြတယ်၊ အပူပြင်းတဲ့ နွေဥတုမှာ ရမသျွာန် တစ်လလုံး ရိုဇာနဲ့နေလာခဲ့ပြီး မောပါပီ၊ ပမ်းပါပီဆိုတဲ့ အသံမျိုး ထွက်မလာဘဲ ခြောက်လုံးရိုဇာကို ဆက်ထားကြတယ်။ အလွန်အင်မတန် အားရကျေနပ်ဖွယ်ကောင်းပါတယ်။

အဲဒီလို အလ္လာဟ်အရှင်မြတ်ရဲ့ ကျေနပ်နှစ်သက်မှုကို ရယူဖို့ ကြိုးစားကြသူတွေအတွက် မောင်လာနာ မွတ်ဖ်သီ အာဆွင်းမ် )နဒ်ဝီ ( ဆွာဟိဗ်က ကျမ်းအကိုးအကား အထောက်အထားများနဲ့ အားဆေး တစ်ခွက်ကို စာပေအသွင်နဲ့ စုဆောင်းတင်ပြထားပါတယ်။ ٢١ فائدة في صيام ٦ شوال ဆိုတဲ့စာအုပ်မှာ ဟန်ဘလီနဲ့ ရှာဖေအီ ပညာရှင်အချို့က ရောက်ဝါလ်ရဲ့ ခြောက်လုံးရိုဇာက အကျိုးဆဝါးဗ်အားဖြင့် တစ်နှစ်တာ

ရဲ့ ဖရ်ဇ်ရှိဇာနဲ့ ညီမျှတယ်လို့ မိန့်ဆိုကြောင်း ကျမ်းရှင်ဖြစ်သူ محمد صالح المنجد က တင်ပြထားပါတယ်။

ဒါကြောင့် အေဗာဒသ် တစ်ခုရဲ့အစား ဆယ်ခုရတာချင်း အတူတူ ရှောက်ဝါလ်ရဲ့ ခြောက်လုံးရှိဇာက ဘာတွေထူးခြားလဲ၊ ဘယ်လိုခန်းနားလဲ ဆိုတာကို ရှုထောင့်စုံကနေ စုဆောင်းတင်ပြထားတဲ့ ဒီစာအုပ်လေးဟာ အွမ္မသ်အတွက် တန်ဖိုးကြီးပြီး ခွန်းအားအပြည့်ဖြည့်ပေးမယ့် အားဆေးတစ်ခွက်ဖြစ်ပါတယ်။

လေ့လာမှတ်သားပြီး ကျင့်သုံးနိုင်ကြပါစေ။ ကျမ်းပြုသူ ဆရာသခင်နှင့် အီမာန်ရှင်များအားလုံးကို အလ္လာဟ်အရှင်မြတ်ထံတော်မှ ဒုန္နယာ၊ အာခိရသ် နှစ်ဘဝရဲ့ အောင်မြင်ရေးအကျိုးများ သယ်ပိုးနိုင်စွမ်း ပေးသနားတော်မူပါစေ။ အာမီးန်။

မုဟမ္မဒ် ကရီမွလ္လာဟ် နဒ်ဝီ

၆ –ရှောက်ဝါလ်– ၁၄၄၁

သောကြာနေ့

# ဟဇရသ် မောင်လာနာ မွတ်ဖ်သီ ကာရီ အဗ်ဒွလ်ဂနီ (နဒ်ဝီ၊ မဇွာဟေရီ) ၏ ရင်တွင်းစကား

بسم الله الرحمن الرحيم

الحمد لله وحده، والصلاة والسلام على من لا نبي بعده. أما بعد

﴿ وَٱعۡبُدۡ رَبَّكَ حَتَّىٰ يَأۡتِيَكَ ٱلۡيَقِينُ ﴿٩٩﴾ ﴾ [الحجر: ٩٩].

“ထိုမှတစ်ပါး အသင်သည် မိမိထံသို့ မုချမလွဲဖြစ်မည့်ကိစ္စ (ဝါ) မရဏသေခြင်းတရား ဆိုက်ရောက်လာသည့်တိုင်အောင် မိမိအား ဖန်ဆင်းမွေးမြူတော်မူ သောအရှင်မြတ်ကို ဝတ်ပြုနေပါလေ။”

အာယသ်တော်အား ဆင်ခြင်သုံးသပ်ခြင်းအားဖြင့် ကောင်းမှုကုသိုလ်ပွားများခြင်းသည် ရမဇာန်လမြတ်နှင့်သာ သက်ဆိုင်သောကိစ္စ မဟုတ်ပဲ အစဉ်မပျက်ပြုလုပ်နေရမည်ဖြစ်ကြောင်း သိသာထင်ရှား လှပါသည်။ အလ္လာဟ်အရှင်မြတ်သည် နည်းပါးလင့်ကစား အစဉ် တည်တံ့လျက်ရှိသော ကောင်းမှုကိုသိုလ်ကို ပို၍နှစ်သက်တော်မူ ကြောင်း မွတ်စ်လင်မ်ကျမ်းလာ ဟဒီးဆ်တော်မှလည်း သိရှိရပေသည်။ ထို့အတွက်ကြောင့် လမြတ်ရမဇာန်၏ရိုဇာများ ပြီးဆုံးသွားသော်လည်း မိမိတို့၏ ကောင်းမှုကုသိုလ်များ အစဉ်တည်တံ့စေလိုသောအားဖြင့် ရှောက်ဝလ်လ၏ (၆) လုံးရိုဇာစောင့်ထိန်းရန်မှာ အလွန်ပင်သင့်မြတ် လှ၏။ တမန်တော်မြတ်ကြီး (ﷺ) ကလည်း ရမဇာန်လမြတ်၏ရိုဇာကို စောင့်ထိန်းပြီးနောက် ရှောက်ဝလ်လ၏ (၆) လုံးရိုဇာထားခြင်းအားဖြင့်

တစ်သက်တာလုံးရိဇာထားခြင်း၏ အကျိုးဆဝါးဗ် ရရှိမည့်အကြောင်း မိန့်ဆိုထားပါသည်။

ရှောက်ဝလ်လ (၆) လုံးရိဇာ၏ ထွတ်မြတ်မှု၊ ၎င်းရိဇာ၏ အနှစ်သာရ၊ အမိန့်ပညတ်ချက်များနှင့် ရှောက်ဝလ်လအတွင်း ဖြစ်ပျက်ခဲ့သော သမိုင်းမှတ်တိုင်းများ စသည်တို့ကို ကျွန်တော့်၏ဆရာ အလ်ဟာဂျ် ဟဇရသ် မောင်လာနာ မွတ်ဖ်သီ ကာရီ မိုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ မဇ္ဇာဟေရီ၊ အဗ္ဗလ်ဟာစနီ) မှ ဤတန်ဖိုးရှိလှသော ကျမ်းငယ်တွင် ခိုင်မာသောအထောက်အထားများဖြင့် စုစည်းတင်ပြထားပါသည်။

အလ္လာဟ်အရှင် ဤကျမ်းငယ်အား ဆရာ၏တစ်ခြားသော ကျမ်းများနည်းတူ လက်ခံတော်မူပါစေ ... အာမီးန်

အဗ်ဒွလ်ဂနီ (နဒ်ဝီ၊ မဇ္ဇာဟေရီ)

ဟစ်ဂျ်ရီ(၁၄၄၁)ခုနှစ် ရှောင်ဝ်ဝလ်လမြတ်(၇)ရက်၊

ခရစ်(၂၀၂၀)ခုနှစ်မေလ(၃၀)ရက် (စနေနေ့)

بسم الله الرحمن الرحيم

الحمد لله على جميع النعم، والصلاة والسلام على سيدنا محمد وآله وصحبه ما جرى المداد بالقلم: وبعد

الحمد لله အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဟစ်ဂျ်ရီ(၁၄၄၁)ခုနှစ်၊ ရှောင်ဝ်ဝလ်လမြတ်(၄)ရက်၊ ခရစ်(၂၀၂၀)ခုနှစ်၊ မေလ(၂၇)ရက်နေ့ည (၇:၀၀)တွင် အစ္စလာမ့်လမ်းစဉ် facebook စာမျက်နှာမှ ရှောက်ဝလ်လမြတ်နှင့် (၆)လုံးရိုဇာခေါင်းစဉ်ဖြင့် သာသနာ့အစီအစဉ်တစ်ရပ်ပြုလုပ်ဖြစ်ခဲ့ပါသည်။

ထိုအစီအစဉ်တွင် ရှောင်ဝ်ဝလ်လမြတ်အကြောင်း၊ ရှောင်ဝ်ဝလ်လမြတ်နှင့်စပ်လျဉ်းသည့် အစ္စလာမ့်အမြင်၊ ရှောင်ဝ်ဝလ်လမြတ်တွင် စောင့်ထိန်းရသည့် (၆) လုံးရိုဇာ၊ ထို(၆)လုံးရိုဇာ၏ အနှစ်သာရများ၊ ထိုရိုဇာများတွင် တိမ်မြုတ်နေသော အကျိုးတရားများ၊ ထိုရိုဇာများနှင့်စပ်လျဉ်းသည့် တရားတော်လာအမိန့်ပညတ်ချက်များနှင့် ရှောင်ဝ်ဝလ်လတွင်ဖြစ်ပျက်ခဲ့သည့် သမိုင်းဝင်ဖြစ်ရပ်အချို့ကို အကျဉ်းရုံးတင်ပြခဲ့ပါသည်။

ဤသို့တင်ပြပြီးချိန် အချို့သောပရိသတ်များဘက်မှ အထက်ပါဟောပြောချက်များကို စာအုပ်အဖြစ်ထုတ်ဝေလျှင် ပိုမိုကောင်းမွန်မည်ဟူသော အကြံပြုချက်များ၊ တိုက်တွန်းချက်များကြောင့် ဤကဲ့သို့ စာအုပ်အဖြစ် ထုတ်ဝေလိုက်ခြင်းဖြစ်ပါသည်။

ဤစာအုပ်ဖြစ်မြောက်ရေးတွင် အဓိကပါရမီဖြည့် ကူညီပေးခဲ့ပြီး၊ စာအုပ်၏ layout ပိုင်းကို အပြည့်တာဝန်ယူပေးခဲ့သော ကျွန်ုပ်၏ ချစ်မိတ်ဆွေ ဟာဖိဇ်၊ မော်လာနာ၊ ကာရီ၊ မွတ်ဖ်သီ အဗ္ဗဒုလ်ဂနီ (မဇ္ဇာဟေ့ရီ၊ နဒ်ဝီ)-(အလ်ဟာရမိုင်းန်စာပေ)နှင့် စာအုပ်ပါအချက်အလက်များကို စိစစ်ပေးခဲ့သော ချစ်မိတ်ဆွေ မော်လာနာ မွတ်ဖ်သီ ကာရီမွလ္လာ(နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ) တို့ကိုလည်း အထူးကျေးဇူးတင်ရှိပါကြောင်းနှင့် နှစ်ဘဝလုံးတွင် အရှင်မြတ်ကောင်းသော အစားများ ချီးမြှင့်ပေးသနားတော်မူရန် ဆုမွန်ကောင်း တောင်းခံအပ်ပါသည်။

သာသနာ့သောကရှင်လူကြီးမင်းများနှင့် အမေ၊ အစ်မ အပေါင်းတို့လည်း လေ့လာမှတ်သားပြီး လိုက်နာကျင့်သုံးနိုင်ကြပါစေဟု ဆန္ဒပြုဆုမွန်ခြွေပါသည်။

စာရေးသူ၊ ၎င်း၏မိဘများ၊ ကျေးဇူးရှင်များ၊ ဆရာသမားများနှင့် မွတ်စ်လင်မ်ထုတစ်ရပ်လုံးကိုလည်း နှစ်ဌာနလုံးတွင် အရှင်မြတ်ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

မုဟာမ္မဒ်အာစွင်းမ် (နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)

ဟစ်ဂျ်ရီ(၁၄၄၁)ခုနှစ် ရှောင်ဝ်ဝလ်လမြတ်(၅)ရက်၊

ခရစ်(၂၀၂၀)ခုနှစ်မေလ(၂၈)ရက် (ကြာသပတေးနေ့)

## ရှောင်ဝလ်လမြတ်

ဟစ်ဂျ်ရီခုနှစ်၏ ဒသမမြောက်လကို ရှောင်ဝလ်လမြတ်ဟုခေါ်သည်။ အရဗီစာပေတွင် ရှောင်ဝလ်လဆိုသည်မှာ "ခမ်းခြောက်ခြင်း" ဟူ၍ဖြစ်သည်။ ဤလတွင် ကုလားအုပ်နို့များ ခမ်းခြင်းကိုအစွဲပြု၍ ဤသို့အမည်ပေးထားရခြင်းလည်းဖြစ်နိုင်သည်။

ရှောင်ဝလ်၏ ဒုတိယအလိုသဘောမှာ "ခရီးထွက်ခြင်း" ဟူ၍ဖြစ်သည်။ ဂျာဟေ့လီယသ် (အမိုက်ခေတ်) ၌ ဤလမြတ်တွင် စစ်မက်များဖြစ်ပွားလွန်းသဖြင့် စစ်မကြိုက်သူများက အချင်းချင်းခရီးထွက်ကြရန်တိုက်တွန်းခြင်းကို အခြေခံပြီး ဤသို့အမည်မှည့် ထားခြင်းဖြစ်သည်ဟုလည်း အဆိုလာရှိသည်။

### ရှောင်ဝလ်လမြတ်နှင့် ဂျာဟေ့လီယသ်

ဂျာဟေ့လီယသ်ခေတ်တွင် အရဗ်လူမျိုးတို့က ဤလကို အ'မင်္ဂလာလဟု သတ်မှတ်ကြသည်။ ထို့ကြောင့် ဤလတွင် နေကာထိမ်းမြားခြင်းကို ရှောင်ကြသည်။ ကိုယ်တော်မြတ်ﷺက ၎င်းတို့၏ ဤအတွေးမှားယွင်းကြောင်းကို ပြသသောအနေဖြင့် ဟဇရသ်အာအေ့ရှာ ؓ သခင်မကြီးနှင့် ဤလတွင်ပင် နေကာပြုခဲ့သည်။ အခန်းအပ်ခဲ့သည်။ သခင်မကြီးက "ကျွန်မထက်ပို၍ နဖူးစာကောင်းပြီး၊ ကိုယ်တော့်

ထံမှ (အချစ်ဝေစု) အများဆုံးရသူ မည်သူရှိမည်နည်း” ဟု မေးခွန်း ထုတ်ခဲ့သည်။

📖အဗ်နေ့မာဂျာကျမ်း (ဟဒီးဆ်အမှတ် – ၁၆၃၂)

အချုပ်ဆိုရသော် အ'မင်္ဂလာဟူသည် နေ့၊ နာမ်၊ အချိန်ကာလ များအပေါ်အခြေခံခြင်းမရှိကြောင်း၊ အရှင်မြတ်သတ်မှတ်တော်မူသည့် အတိုင်းသာဖြစ်ရကြောင်းကို နှလုံးသွင်းသင့်သည်။

## (၆) လုံးရိုဇာ

မွတ်စ်လင်မ်ကျမ်း ဟဒီးဆ်အမှတ် (၂၀၄/၁၁၆၄) တွင် ဟဇရသ် အဗူအိုင်ယူးဗ် ﷺ သခင်ထံမှ ဆင့်ပြန်ချက်တစ်ရပ်လာရှိသည်။ ကိုယ် တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ “အကြင်သူသည် ရမ်ဇန်လမြတ် ၏ရိုဇာကို စောင့်ထိန်းပြီးနောက် ရှောက်ဝလ်လမြတ်တွင်လည်း ဆက် လက်ပြီး (၆) ရက်ရိုဇာထားပါမူ ထိုသူသည် တစ်သက်လုံးရိုဇာထား သကဲ့သို့ဖြစ်သည်။”

မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ ဟဒီးဆ်အမှတ် (၁၄၇၁၀) လာ ဟဇရသ်ဂျာဗိရ်ဗင်န်အဗ္ဗဒုလ္လာ ﷺ သခင်၏ဆင့်ပြန်ချက်တွင် “လမြတ် ရမ်ဇာန်တစ်လလုံးရိုဇာထားပြီး ရှောင်ဝ်ဝလ်လမြတ်၏ (၆) လုံး ရိုဇာကို လည်း ဆက်လက်စောင့်ထိန်းမည်ဆိုပါက တစ်နှစ်ပတ်လုံး ရိုဇာထား သည့်ဆဝါးဗ်ကို ရရှိမည်” ဟုလာရှိထားသည်။

ထို (၆) ရက်ရိဇာကို ခွဲ၍ဖြစ်စေ၊ ဆက်တိုက်ဖြစ်စေ ရှောက်ဝလ် လအတွင်းထားနိုင်သည်။

မှတ်ချက်။ ။တစ်သက်လုံး ရိဇာထားခြင်း၏ ဆဝါးဗ်ရရှိခြင်းကို အေမာမ်နဝဝီသခင်ကြီးက အောက်ပါအတိုင်းရှင်းပြထားပါသည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင် ကောင်းမှုတစ်ခုအတွက် (၁၀) ဆအကျိုးရမည် ဟုအမိန့်တော်လာရှိထားသည်။ ရမ်ဇန်တစ်လသည် (၁၀) လနှင့်ညီမျှသည်။ ရှောက်ဝလ်၏ (၆) ရက်သည် ရက် (၆၀) = (၂) လနှင့်ညီမျှသည်။ ဤသို့ဖြင့် (၁၂) လလုံးရိဇာထားခြင်း၏ အကျိုးကို ရရှိမည်ဖြစ်သည်။ နှစ်စဉ်နှစ်တိုင်းဤကဲ့သို့ရိဇာထားသူသည် တစ်သက်လုံး ရိဇာထားသည့် သဘောဆောင်သွားမည်ဖြစ်သည်။

## ဤ (၆) လုံးရိဇာ၏ နောက်ကွယ်တွင်

ဤသို့ (၆) လုံးရိဇာထားခြင်းဖြင့် ....

❁ ရိဇာထားသူက အရှင်မြတ်သည် ၎င်းကို ရမ်ဇာန်လမြတ်တွင် ရိဇာစောင့်ထိန်းစေခဲ့ခြင်းအပေါ် ကျေးဇူးတင်ခြင်း။

❁ ဤသို့ရိဇာစောင့်ထိန်းလိုက်ခြင်းဖြင့် လူသားသည် အရှင့်အမိန့်နာခံခြင်းကို အလွန်ပင်နှစ်သက်ကြောင်း၊ အရှင်မြတ်ပြုလုပ်ခိုင်းသော အေဗာဒသ်များကို သတ်မှတ်ထားသောကာလတွင်သာ မဟုတ်

ဘဲ အခြားအချိန်အခါများတွင်လည်း ပြုလုပ်ဆောင်ရွက်ရန် အသင့်ရှိကြောင်းသက်သေခံခြင်း။

❁ ရမ်ဇာန်လမြတ် ကုန်ဆုံးသွားသော်လည်း အပြစ်ဂိုနာထဲရောက်သွားခြင်းမျိုးမရှိဘဲ အရှင့်အမိန့်နာခံခြင်းဖြင့်သာ ဆက်လက်ရပ်တည်နေခြင်း စသည်တို့တိမ်မြုတ်နေပါသည်။

مقتبس عن صفحة صيد الفوائد للشيخ صالح مبارك دعكيك

## ဤရှိဇာကိုစောင့်ထိန်းရခြင်း၏ အနှစ်သာရများမှာ

အထက်တွင်ဖော်ပြခဲ့သော ဆဝါးဗ်မျိုးရရှိသွားခြင်းမှာ –

❁ ရှိဇာထားသူသည် တစ်လလုံး ရှိဇာထားခဲ့ပြီးဖြစ်သော်လည်း ဆက်လက်၍ အရှင်မြတ်အတွက် ဒုက္ခခံပြီး ရှိဇာစောင့်ထိန်းလိုက်သည်။ ထို့ကြောင့် အေမာမ်မနာဝီသခင်ကြီးက "ရှောင်ဝလ်လမြတ်တွင် ရှိဇာထားခြင်းဖြင့် သီးသန့်အကျိုးများရရှိခြင်းမှာ – "ရမ်ဇာန်တစ်လလုံး အစားငတ်ရေငတ်ခံထားရသည့်အတွက် ဤလတွင် စားသောက်ခြင်းဘက်သို့ ဆန္ဒအာသီသပြင်းပြနေသော်လည်း အရှင်မြတ်အတွက် ထပ်မံရှိဇာစောင့်ထိန်းလိုက်ခြင်းမှာ ပေးဆပ်မှုကြီးတစ်ခုဖြစ်နေသည်။ ဤပေးဆပ်မှုကြီးအတွက် အရှင်မြတ်ကလည်း ဆဝါးဗ်ကြီးကြီး သတ်မှတ်လိုက်ခြင်းဖြစ်သည်။"

အေမာမ်အဗူယအ်လာက မိမိ၏ကျမ်းတွင် ဟဒီးဆ်တစ်ပုဒ် ဆင့်ပြန်ထားသည်။ “ဟဇရသ် အိုစားမားဗင်န်ဇိုင်ဒ် ﵁ သခင်ကြီးသည် (ရမ်ဇာန်လအပြင်) တစ်နှစ်မှ တစ်လကိုသတ်မှတ်ပြီး တစ်လလုံး ရိုဇာထားသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ ကရှောင်ဝ်ဝလ်လမြတ်ကို ရွေးချယ်ရန် ရည်ညွှန်းခဲ့သည်။

## ရမ်ဇာန်ပြီး (၆) လုံးရိုဇာစွဲမြဲစွာထားခြင်း

❋ ရမ်ဇာန်မတိုင်မီ ရှအ်ဗာန်လတွင်ရိုဇာထားခြင်းနှင့် ရမ်ဇာန် ပြီးရှောင်ဝလ်တွင် ရိုဇာထားခြင်းတို့သည် ဖရ်ဇ်နမားဇ်မတိုင်မီ ဖတ် သော နဖိလ်များနှင့် ဖရ်ဇ်နမားဇ်ပြီးဝတ်ပြုသော နဖိလ်များကဲ့သို့ဖြစ် သည်။ ဖရ်ဇ်နမားဇ်များတွင် ပေါ်လျော့ပျက်ကွက်မှုများကို နဖိလ် နမားဇ်ဖြင့် ဖြည့်စွက်ပေးခြင်းခံရမည် ဖြစ်သကဲ့သို့ ရမ်ဇာန်လမြတ်၏ ရိုဇာစောင့်ထိန်းရာတွင် ပေါ့လျော့ပျက်ကွက်များကို ရှအ်ဗာန်၊ ရှောင်ဝ်ဝလ်လတို့တွင် စောင့်ထိန်းသော နဖိလ်ရိုဇာများဖြင့် ဖြည့်စွက် ပေးခြင်းခံရမည်ဖြစ်သည်။

❋ ဟဇရသ်အုမရ်ဗင်န်အဗ်ဒုလ်အဇီးဇ်သခင်ကြီးက “ဆွဒကဟ် ဖစ်သ်ရ် (ဖစ်သ်ရာကြေး) ပေးနိုင်စွမ်းမရှိသူများသည် ရိုဇာစောင့်ထိန်း ကြပါ” ဟု မိန့်ကြားတော်မူသည်။ ရိုဇာသည် အကုသိုလ်များကိုချွတ်

ရာတွင် ဖစ်သ်ရာကြေးပေးသကဲ့သို့ဖြစ်သောကြောင့်ပင် ဤသို့မိန့်ခြင်း ဖြစ်နိုင်သည်။

❀ ရှောင်ဝ်ဝလ်လတွင် ရိုဇာစောင့်ထိန်းခွင့်ရရှိခြင်းသည် လမြတ်ရမ်ဇာန်၏ရိုဇာကို အရှင်မြတ်လက်ခံခြင်း၏ သက်သေဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အရှင်မြတ်သည် လူသား၏ကောင်းမှုတစ်ခုကို လက်ခံလိုက်ပြီဆိုလျှင် ဆက်လက်ပြီး ကောင်းမှုပြုခွင့်ချီးမြှင့်တော်မူသည်။

﴿ لَئِن شَكَرْتُمْ لَأَزِيدَنَّكُمْ ۖ ﴿٧﴾ ﴾ [إبراهيم: ٧]. "အသင်တို့ ကျေးဇူးတင်ရှိမည်ဆိုပါက ငါအရှင်မြတ်သည်လည်း ဆထက်ထမ်းပိုး တိုး၍ ချီးမြှင့်တော်မူမည်။" ဟူသော အာယသ်တော်တွင်လည်း ဤကိစ္စဘက်သို့ ရည်ညွှန်းချက်များရှိနေသည်။

ثواب الحسنة حسنة بعدها (ကောင်းမှုတစ်ခု၏ အကျိုးဆဝါးဗ်အတည်ဖြစ်ခြင်း၏ (လက္ခဏာမှာ ထိုကောင်းမှုနောက်တွင် ထပ်မံကောင်းမှုပြုခွင့်ရရှိခြင်းဖြစ်သည်။) ဟုလည်းအဆိုများလာရှိသည်။

❀ ရှောင်ဝ်ဝလမြတ်တွင် (၆) လုံးရိုဇာထားခြင်းသည် ရမ်ဇာန်လတစ်လလုံးတွင် ရိုဇာထားခွင့် ချီးမြှင့်တော်မူခဲ့သော အရှင်မြတ်ကို ရိုဇာစောင့်ထိန်းကာ ကျေးဇူးတင်ခြင်းမျိုးလည်းဖြစ်သည်။ အချို့သူတောင်စင်ကြီးများသည် ညတွင်သဟဂျ်ဂျဒ်နမားဇ် ဖတ်ခွင့်ရရှိလေတိုင်း နံနက်ကို ရိုဇာစောင့်ထိန်းလိုက်ကြသည်။ ညတွင် သဟဂျ်ဂျဒ်

ဖတ်ခွင့်ရရှိလိုက်ခြင်းကြောင့် ဤသို့ရှိဇာထားပြီး အရှင်မြတ်ကို ကျေးဇူးတင်ခြင်းဖြစ်သည်ဟုဆိုကြသည်။

အရဗီကဗျာဆရာတစ်ဦးက "အသင်ဟာ အရှင်မြတ်ချီးမြှင့်လိုက်တဲ့ (နိအ်မသ်) စည်းစိမ်တစ်ခုတိုင်းအပေါ်မှာ ပိုတိုးပြီးမလုပ်ပြသေးသရွေ့ ကျေးဇူးတင်သူမဖြစ်နိုင်" ဟုပင် ရေးစပ်ဖွဲ့သီထားသည်။

❁ လမြတ်ရမ်ဇာန်တွင် ဆောင့်ရွက်ခဲ့သမျှသော ကောင်းမှုများမှာ စဉ်ဆက်မပြတ်ကျန်ရှိနေပြီး၊ ရမ်ဇာန်ပြီးသည့်နောက်တွင်လည်း ရှိဇာထားခြင်းမှာ တစ်လလုံးရှိဇာထားခြင်းသည် ကျွန်ုပ်တို့အတွက် ဝန်ထုပ်ဝန်ပိုးမဟုတ်ကြောင်း အလုပ်ဖြင့် သက်သေခံလိုက်ခြင်းတစ်မျိုးလည်းဖြစ်သည်။ အေဗာဒသ်တစ်ခု ဆောင်ရွက်ပြီးတိုင်း အခြားအေဗာဒသ်တစ်ခု ဆက်လက်ဆောင်ရွက်နိုင်စွမ်း ရရှိခြင်းသည် အရှင်မြတ်ချီးမြှင့်သော သောင်ဝ်းဖီးက်စွမ်းအားပင်မဟုတ်ပါလော့။

## သောဝ်ဖီးက်ဆိုသည်မှာ

ကျေးဇူးရှင်ဆရာသခင်ကြီး အေမာမ် စိုင်ယစ်ဒ် အဗုလ်ဟာစံအလီ (ဟာစနီ၊ နဒ်ဝီ) သခင်ကြီးက သောဝ်ဖီးက်ဆိုသည်မှာ အချက် (၄) ချက်ပေါင်းစပ်ထားသော အရာကိုခေါ်ဆိုကြောင်း အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

၁။ အရှင်မြတ်ဘက်တော်မှ ရဟ်မသ် (ကရုဏာ) ၏အရှုဖြင့် ရှုခံရခြင်း။

၂။ နှလုံးသားတွင် ထိုအရာကိုပြုလုပ်လိုသည့် စိတ်ဓါတ် ထည့်ပေးခြင်း။

၃။ အတားအဆီးများ၊ အဟန့်အတားများကို ဖယ်ရှားပေးခြင်း။

၄။ ထိုအလုပ်ဖြစ်စေရန်အတွက် အရှင်မြတ်ဘက်တော်မှ သတ်မှတ်ပေးခြင်း။

စသည့်အချက်များဖြင့် ပြည့်စုံသောအရာကို သောင်ဝ်ဖီးက်ဟု ခေါ်ဆိုသည်။

## ရှောင်ဝ်ဝလ်လမြတ်၏(၆)လုံးရိုဇာနှင့်စပ်လျဉ်းသည့် တရားတော်လာအမိန့်ပညတ်ချက်များ

❁ ဉ်ရိုဇာသည် နဖိလ်ရိုဇာဖြစ်သည်။ ထို့ကြောင့် ဉ်ရိုဇာ၏ နိယသ်နှင့် အခြားဖြည့်စွက်ရန် တာဝန်ရှိနေသော ကဇ္ဇာနိယသ်တို့ကို ပူးတွဲ၍မရပါ။

အဆင့်တူသော ရိုဇာအမျိုးအစားများကို စောင့်ထိန်းရာတွင် နိယသ်ကို ပူးတွဲပြုခြင်းဖြင့်နှစ်မျိုးလုံး၏ ဆဝါးဗ်ရရှိမည်ဖြစ်သည်။ ပမာဆိုရသော် – တနလ်ာနေ့၊ ကြာသပတေးနေ့၊ အစ္စလာမ့်လမြတ်၏ (၁၃၊ ၁၄၊ ၁၅) ရက်နေ့တို့တွင် ရိုဇာထားခြင်းသည် စွန္နသ်ဖြစ်သည်။

ထို့ကြောင့် ဤ (၆) လုံးရိုဇာကို တနင်္လာနေ့၊ ကြာသပတေး နေ့ (သို့) အစ္စလာမ့်လမြတ်၏ (၁၃၊ ၁၄၊ ၁၅) ရက်နေ့တို့တွင်ထားပြီး ဤရက်များတွင် ရိုဇာထားခြင်း၏စွန္နသ်ဆဝါးဗ်ကိုပါ ပူးတွဲ နိယသ် ပြုမည်ဆိုပါက ပြုနိုင်သည်။ အင်န်ရှာအေလ္လာဟ် နှစ်မျိုးလုံး၏ ဆဝါးဗ် ကုသိုလ်ရရှိမည်ဖြစ်သည်။ ရိုဇာနှစ်မျိုးလုံးသည် နဖိလ်အဆင့်တူခြင်း ကြောင့် ပူးတွဲပြီးနိယသ်ပြုနိုင်ခြင်းဖြစ်သည်။

❁ လွတ်ခဲ့သော ကဇ္ဇာရိုဇာကို အရင်ထားပြီးနောက်မှသာ ဤရိုဇာစောင့်ထိန်းခြင်းမှာ အကောင်းဆုံးဖြစ်သည်။

❁ အကယ်၍ ဤနဖိလ်ရိုဇာကို ဦးစွာထားပြီးမှ ကဇ္ဇာရိုဇာများ ထားမည်ဆိုလျှင်လည်း ပိုင်သွားမည်ဖြစ်သည်။

❁ အကယ်၍ မတ်စ်အလဟ် မသိသောသူတစ်ဦးက နဖိလ်နှင့် ကဇ္ဇာနိယသ်နှစ်ခုလုံးကို ပူးတွဲမိသွားပါက ကဇ္ဇာသာလျှင် အထမြောက် သွားမည်ဖြစ်သည်။ နဖိလ်ရိုဇာ၏ နိယသ်ပြုမိခြင်းကြောင့် ဆဝါးဗ်ရနိုင် ဖွယ်ရှိသည်ဟုလည်း ပညာရှင်များကဆိုကြသည်။

🕮 ولا يكره صوم التطوع لمن عليه قضاء رمضان. (الفتاوى الهندية: ج: ١، ص: ٢٠١).

🕮 صام في يوم عرفة مثل قضاء أو نذرا أو كفارة ونوى معه الصوم عن يوم عرفة أفتى بعضهم بالصحة والحصول عنهما. (شرح الأشباه والنظائر للحموي: ط: كراتشي).

📖 رقم الفتوى: (١٤٣١٠١٢٠٠٣١٣) من دار الإفتاء جامعة علوم الإسلامية، بنوري تاون.

📖 ولو نوى قضاء رمضان والتطوع كان عن القضاء في قول أبي يوسف خلافا لمحمد؛ فإن عنده يصير شارعا في التطوع بخلاف الصلاة؛ فإنه إذا نوى التطوع والفرض لا يصير شارعا في الصلاة أصلا عنده، ولو نوى قضاء رمضان وكفارة الظهار كان عن القضاء استحسانا، وفي القياس يكون تطوعا، وهو قول محمد كذا في الفتاوى الظهيرية. (البحر الرائق ج:٦ ص:٢١٠ ). باب ما يفسد الصوم وما لا يفسد.

📖 ومتى نوى شيئين مختلفين متساويين في الوكادة والفريضة ولا رجحان لأحدهما على الآخر بطلا، ومتى ترجح أحدهما على الآخر ثبت الراجح. كذا في محيط السرخسي. فإذا نوى عن قضاء رمضان والنذر كان عن قضاء رمضان استحسانا. وإن نوى النذر المعين والتطوع ليلا أو نهارا أو نوى النذر المعين وكفارة من الليل يقع عن النذر المعين بالإجماع. كذا في السراج الوهاج. ولو نوى قضاء رمضان وكفارة الظهار كان عن القضاء استحسانا. كذا في فتاوى قاضي خان. وإذا نوى قضاء بعض رمضان والتطوع يقع عن رمضان في قول أبي يوسف رحمه الله تعالى، وهو رواية عن أبي حنيفة رحمه الله تعالى. كذا في الذخيرة.

(الفتاوى الهندية: ج: ١، ص: ١٩٧، ط: دار الفكر ١٩٩١م).

📖 ولو نوى صوم القضاء والنفل أو الزكاة والتطوع أو الحج المنذور والتطوع يكون تطوعا عند محمد؛ لأنهما بطلتا بالتعارض فبقي مطلق النية فصار نفلا، وعند أبي يوسف يقع عن الأقوى ترجيحا له عند التعارض، وهو الفرض أو الواجب. (تبيين الحقائق شرح كنز الدقائق: ج: ٧، ص: ١٢٢) فصل: في كفارة الظهار.

## ရှောင်ဝလ်လမြတ်နှင့် သာသနာ့မှတ်စုများ

ဤလမြတ်တွင် ဖြစ်ပျက်ခဲ့သမျှ အမှတ်တရအချို့ကိုလည်း ဗဟုသုတရစေရန် တင်ပြအပ်ပါသည်။

(၁) ဟစ်ဂျ်ရီ (၁)ခုနှစ်၊ ရှောင်ဝလ်လမြတ်တွင် ...

ချစ်နဗီ ﷺ သည် မိခင်မွန် အာအေရှာ رضي الله عنها နှင့် လက်ထပ်ထိမ်းမြားခဲ့သည်။

(၂) ဟစ်ဂျ်ရီ (၂) ခုနှစ်၊ ရှောင်ဝလ်လမြတ်တွင် ...

ဗနူစိုလိုင်းမ် စစ်ပွဲဖြစ်ပွားခဲ့သည်။

ဗနူကိုင်နို့အားအ် စစ်ပွဲဖြစ်ပွားခဲ့သည်။

ဆွဖ်ဝါးန်ဗင်န်အိုမိုင်ယဟ်နှင့် အိုမိုင်းရ်ဗင်န်ဝဟ်ဗ်တို့က ကိုယ်တော်မြတ် ﷺ ကို လုပ်ကြံရန်ကြံစည်ခဲ့ကြသည်။

(၃) ဟစ်ဂျ်ရီ (၃)ခုနှစ် ရှောင်ဝလ်လမြတ်တွင် ...

အုဟုဒ်စစ်ပွဲဖြစ်ပွားခဲ့သည်။ ထိုစစ်ပွဲတွင် ဟမ်ဇား ﵁၊ မွတ်စ်အဗ်ဗင်န် အိုမိုင်း၏ ﵁၊ အဗ္ဗဒွလ္လာဟ်ဗင်န်ဂျဟ်ရှ် ﵁၊ အနတ်စ်ဗင်န်နဇ္ဇ်၏ ﵁ တို့နှင့် အခြားသောဆွဟာဗာ ﵃ ပေါင်း (၇၀) ကျော်ရှဟီးဒ်ဖြစ်ခဲ့သည်။

ဟမ်ရားအုလ်အစဒ် စစ်ပွဲဖြစ်ပွားခဲ့သည်။

(၄) ဟစ်ဂျ်ရီ (၈) ခုနှစ် ရှောင်ဝလ်လမြတ်တွင်

ဟိုနိုင်းန်စစ်ပွဲဖြစ်ပွားခဲ့သည်။

ကိုယ်တော်သခင် ﷺ သည် ဇုလ်ကအ်ဒဟ်လတွင် အွမ်ရဟ် တစ်ကြိမ်၊ ရှောင်ဝ်ဝလ်လမြတ်တွင် အွမ်ရဟ်တစ်ကြိမ်ပြုခဲ့သည်။

📖(ဆွဟီးဟ်အဗီဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ် (၁၉၉၁၊ ၁၇၃၈)